


ပုံစံ (မနသ-၂)

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၀၅ / ၂၀၁၁ ။ ၂၀၁၁ ခုနှစ်၊ မတ် လ ၂၈ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဦးဘိုဘိုလင်း

(ခ) အဘအမည် ဦးတင့်ဝေ

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/စခန (နိုင်) ၀၅၃၃၁၅

(ဃ) နေရပ်လိပ်စာ အမှတ် - (၃၁)၊ (၇)မိုင်၊ ပြည်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီ လီမိတက် (Hnin Thazin Construction Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား BOTစနစ်ဖြင့်လမ်းပြုပြင်ဖောက်လုပ်၍လမ်း တံတားအသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ငွေးချို-ချောက်လမ်းအပိုင်း(၁၇မိုင်၁ဖာလုံ)နှင့် ဆိပ်ဖြူ-ပခုက္ကူလမ်းအပိုင်း(၆၀မိုင်၆ဖာလုံ)စုစုပေါင်း၇၇မိုင်၇ဖာလုံ။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ၄၁၀၀.၀၀သန်း(အမေရိကန်ဒေါ်လာ(၄.၆၇)သန်းအပါအဝင် စုစုပေါင်းကျပ်သန်းပေါင်းလေးထောင့်တစ်ရာ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

အမိန့်ကြော်ငြာစာအမှတ်၊ ၃၆ /၂၀၁၁ (မနသ)

နေပြည်တော်၊ ၁၃၇၂ ခုနှစ်၊ တပေါင်းလပြည့်ကျော် ၄ ရက်

(၂၀၁၁ ခုနှစ် မတ် လ ၂၈ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin Construction Co., Ltd.)မှ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ် ရေး လုပ်ငန်းပိုင် ဝွေးချို- ချောက် လမ်းအပိုင်း ၁၇ မိုင် ၁ ဖာလုံ နှင့် ဆိပ်ဖြူ-ပခုက္ကူ လမ်း အပိုင်း ၆၀ မိုင် ၆ ဖာလုံ စုစုပေါင်း ၇၇ မိုင် ၇ ဖာလုံ ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ် ၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် အဆိုပြုချက်အား (၂၅-၂-၂၀၁၁) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင် ၏ (၈/၂၀၁၁) အစည်းအဝေး၌ တင်ပြ စိစစ်ခဲ့ပါသည်။ ကော်မရှင်မှ စိစစ်ခဲ့ပြီး (၂၄-၃-၂၀၁၁) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၁/၂၀၁၁) အစည်းအဝေး သို့ ဆက်လက် တင်ပြ ခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၄-၃-၂၀၁၁) နေ့ တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၁၀/၂၀၁၁) အစည်းအဝေး သို့ တင်ပြ ခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျှက် နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.)အား ဝွေးချို- ချောက် လမ်းအပိုင်း (၁၇ မိုင် ၁ ဖာလုံ) နှင့် ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း( ၆၀ မိုင် ၆ ဖာလုံ )စုစုပေါင်း ၇၇ မိုင်၊ ၇ ဖာလုံတွင် BOT စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ-၈၀၅/၂၀၁၁ ကို ထုတ်ပေးလိုက်သည်။

၂။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.)အနေဖြင့် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှုလုပ်ငန်း စီးပွားဖြစ် စတင်သော နှစ် အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။ ဥပဒေပုဒ်မ ၁၃ မှ အောက် ဖော်ပြပါ အခွန် ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့် ပြုနိုင် ရန် ဤအမိန့် ကြော်ငြာစာ ကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး

Hnin Tha Zin

ရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရံပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံး မတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှုကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(င) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦးရင်းနှီး မြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ(၃)နှစ်အတွက် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် ပြည်ပမှတင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ အပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၃(ဇ)နှင့် ၁၃(ဈ)အရ ပြည်ပမှတင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများ နှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရမည် -

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ - ပြည်ပတင်ပို့မှုမှ ဝင်ငွေ၊ ကိုယ်ပိုင်နိုင်ငံခြားငွေ၊ စသည်တို့ ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့်



Hnin Tha Zin

စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေးကိုယ်စားလှယ်၏စစ်ဆေးပြီးကြောင်းအထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်း အမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်း တန်ဖိုး သတ်မှတ်ရေး အဖွဲ့ (FCEC)သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) သည် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ဝန်ဆောင်မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၅။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၄.၆၇) သန်း အပါအဝင် စုစုပေါင်းကျပ် (၄၁၀၀.၀၀) သန်း ဖြစ်သောကြောင့် ကုမ္ပဏီ၏ မတည်ရင်းနှီးငွေ (Authorized Capital)တိုးမြှင့်ခွင့်ကို ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ တင်ပြ လျှောက်ထားရမည်။

၇။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) သည် ငွေးချို- ချောက် လမ်းအပိုင်း (၁၇ မိုင် ၁ ဖာလုံ) နှင့် ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း( ၆၀ မိုင် ၆ ဖာလုံ )စုစုပေါင်း ၇၇ မိုင် ၊ ၇ ဖာလုံ အား BOT စနစ်ဖြင့် ဆောင်ရွက်ရာတွင် ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း နှင့် ချုပ်ဆိုမည့် BOT ပဋိညာဉ် စာချုပ်ပါ သတ်မှတ်ချက် စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေး လုပ်ငန်း နှင့် နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin Construction Co., Ltd.) တို့ ချုပ်ဆိုမည့် ငွေးချို- ချောက် လမ်းအပိုင်း (၁၇ မိုင် ၁ ဖာလုံ) နှင့် ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း( ၆၀ မိုင် ၆ ဖာလုံ )စုစုပေါင်း ၇၇ မိုင် ၊ ၇ ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လုပ်ငန်း လုပ်ကိုင်ရေး ပဋိညာဉ်စာချုပ် လက်မှတ်ရေးထိုး ပြီးသည့် အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅)စောင် ကို ဤကော်မရှင် သို့ မပျက်မကွက် ပေးပို့ တင်ပြရမည်။

၉။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) ၏ ငွေးချို- ချောက် လမ်းအပိုင်း (၁၇ မိုင် ၁ ဖာလုံ) နှင့် ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း( ၆၀ မိုင် ၆ ဖာလုံ )စုစုပေါင်း ၇၇ မိုင် ၊ ၇ ဖာလုံ အား BOT စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း သက်တမ်းမှာ နှစ်(၄၀) ဖြစ်သည်။ လမ်းဖောက်လုပ် သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက်ပြီးစီးသည့်နေ့ သို့မဟုတ် လုပ်ငန်း အပြီးသတ် ဆောင်ရွက် ပြီးစီးမှု လက်မှတ် ထုတ်ပေးသည့်နေ့ ထိုနှစ်ရပ် အနက် စောရာ နေ့ရက်ကာလမှ စတင် သတ်မှတ် ရမည်။

၁၀။ လမ်း၊ တံတား အသုံးပြုခ ရငွေ အပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | | |
|---|---|---|---|
| (က) | ပထမ (၃)နှစ် အတွက် | - | ကင်းလွတ်ခွင့်ကာလ |
| (ခ) | (၄)နှစ်မြောက်မှ(၁၃)နှစ်မြောက်အထိ (၁၀)နှစ် | - | ၅% ပေးသွင်းရန် |
| (ဂ) | (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၀% ပေးသွင်းရန် |
| (ဃ) | (၂၄)နှစ်မြောက်မှ(၃၃)နှစ်မြောက်အထိ(၁၀)နှစ် | - | ၁၅% ပေးသွင်းရန် |
| (င) | (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ(၇)နှစ် | - | ၂၀% ပေးသွင်းရန် |

၁၁။ လုပ်ငန်း လုပ်ကိုင် ခွင့်ပြုသည့်ကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့် တံတား များ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ် ပြီးစီးချိန်က ရှိနေသော ကောင်းမွန်သည့် အနေ အထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာ မပါရှိဘဲ လွှဲပြောင်း ပေးရမည်။

၁၂။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။

၁၃။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ် သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိ ပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤ ကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၄။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) သည် ပူးတွဲပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤ ခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၆)လ တစ်ကြိမ် (ဧပြီ / အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပမာဏ၊ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် လမ်းအရှည်မိုင် နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် နှင့် သက်ဆိုင်ရာဝန်ကြီး ဌာန များမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှု မရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၁၇။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin_Construction Co., Ltd.) သည် အဆိုပြုလမ်းအပိုင်း တရားဝင် ဖွင့်လှစ်သည့် နေ့ရက် နှင့် စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက် တို့ကို ဤကော်မရှင် သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၈။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေးတွေ့ရှိလျှင် လုပ်ငန်း ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်းအဆိုပြုသူ သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်းခံရမည်။

(မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၁၂၄/ ၂၀၁၁( ၄၂၈၆ )
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ မတ် လ ၂၈ ရက်။

<u>ဖြန့်ဝေခြင်း-</u>

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။
၃။ အစိုးရ အဖွဲ့ရုံး။
၄။ မကွေးတိုင်း ဒေသကြီးအေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး၊ မကွေးမြို့။
၅။ စာရင်းစစ်ချုပ်ရုံး။
၆။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။
၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၈။ အလုပ်သမား ဝန်ကြီးဌာန။
၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၁၂။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။
၁၃။ အမှတ်(၂) လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန။
၁၄။ ပြည်ထဲရေးဝန်ကြီးဌာန။
၁၅။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)
၁၆။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။
၁၉။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၂၀။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။
၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း။

၂၆။ အုပ်ချုပ်မှု ဒါရိုက်တာ၊ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin Construction Co., Ltd.)

ထိပ်တန်းလျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
အစိုးရအဖွဲ့

စာအမှတ်၊ ၁၅၄ / ၁၄၈ /အဖရ (၁၂/ ၂၀၁၁ ) ။
ရက်စွဲ၊ ၂၀၁၁ ခုနှစ်၊ မတ်လ ၂၅ ရက်။

**အ မှာ စာ**

အကြောင်းအရာ။ **နှင်းသဇင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Hinn Thazin Construction Co.,Ltd) မှ ဌေးချို-ချောက်-ဆိပ်ဖြူ-ပခုက္ကူလမ်းအပိုင်းတွင် B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊တံတားအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ။**

၁။ ၂၀၁၁ ခုနှစ်၊ မတ်လ ၂၄ ရက်( ကြာသပတေး ) နေ့တွင် ကျင်းပ ပြုလုပ်သော ပြည်ထောင်စုမြန်မာနိုင်ငံတော် အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၂/၂၀၁၁) မှတ်တမ်းကောက်နုတ်ချက်ကို ဆောင်ရွက်နိုင်ပါရန် ပေးပို့အပ်ပါသည်။

၂။ မှတ်တမ်းကောက်နုတ်ချက်ကို ရရှိကြောင်း ပြန်ကြားရန်နှင့် ဌာနဆိုင်ရာ အရေးယူဆောင်ရွက်ချက်ကိုလည်း ပြန်လည်အစီရင်ခံတင်ပြရန် ဖြစ်ပါသည်။

အတွင်းရေးမှူး( ကိုယ်စား )
(အောင်လွင်ဦး)

**ဥက္ကဋ္ဌ**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

၁၅၄။ နှင်းသဇင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Hinn Thazin Construction Co.,Ltd) မှ ဌေးချို-ချောက်-ဆိပ်ဖြူ-ပခုက္ကူလမ်းအပိုင်းတွင် B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊တံတားအသုံးပြုခကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုချက်တင်ပြလာခြင်းကိစ္စ။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၁ ခုနှစ်၊ မတ်လ ၂၃ ရက် နေ့စွဲပါ အမှာစာအမှတ်၊ ရက-၆(က)/မ-၁၁၂၄/၂၀၁၁(၄၇၄၅)။ အမှာစာကို သဘောတူကြသည်။

ဆောင်ရွက်ရန်၊
ရင်းနှီးမြှုပ်နှံမှု။
ဆောက်လုပ်ရေး။

ထိပ်တန်းလျှို့ဝှက်

လျှို့ဝှက်

ပြည်ထောင်စုမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၆(ခ)/မ -၁၁၂၄/၂၀၁၁(၄၇၄၅)။

ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ မတ်လ ၂၃ ရက်။

**ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin Construction Co., Ltd.) မှ ဝွေးချို- ချောက်- ဆိပ်ဖြူ - ပခုက္ကူ လမ်းအပိုင်းတွင် B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြု ချက် တင်ပြလာခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီဖြစ်သော နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hnin Thazin Construction Co., Ltd.) မှ ဝွေးချို- ချောက် လမ်းအပိုင်း ၁၇ မိုင် ၁ ဖာလုံ ၊ ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း ၆၀ မိုင် ၆ ဖာလုံ စုစုပေါင်း ၇၇ မိုင် ၇ ဖာလုံ ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဘိုဘိုလင်း (အဘ - ဦးတင့်ဝေ) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြု တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်နှင့် စပ်လျဉ်း၍ (၂၄-၃-၂၀၁၁) နေ့တွင် ကျင်းပသည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၁၁/၂၀၁၁) အစည်းအဝေး မှ လုပ်ငန်း ဆောင်ရွက်ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၃။ အထက်ပါဆုံးဖြတ်ချက်အရ အစိုးရအဖွဲ့သို့တင်ပြရန်အတွက် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တင်ပြလာသဖြင့် ဆက်လက် တင်ပြခြင်းဖြစ်ပါသည်။

၄။ လုပ်ငန်းအဆိုပြုချက်အား နောက်ဆက်တွဲ(က)ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၄.၆၇) သန်း အပါအဝင် စုစုပေါင်း ကျပ် (၄၀၀၀.၀၀) သန်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာများ US$ (၄.၆၇) သန်းဖိုး ကို ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။

၅။ အဆိုပြုလမ်းအပိုင်းတွင် အသွား/အပြန်ခရီးစဉ်အတွက် ချောက်တွင် (၁)ဂိတ်၊ ဆိပ်ဖြူတွင် (၁)ဂိတ်၊ ပခုက္ကူတွင် (၁)ဂိတ်ထား၍ လမ်းတစ်မိုင်နှုန်းအပေါ် အခြေခံ၍ လမ်း အသုံးပြုခကောက်ခံမည် ဖြစ်ပါသည်။

၆။ အဆိုပြု လမ်းပိုင်းတွင် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ တည်ဆောက်သော ပေ ၃၀၀ ရှည်သည့် တံတားအမှတ် ၃/၄၀၆ (ရေကျော်) နှင့် ပေ ၅၁၉၁ ရှိ အနော်ရထာတံတားတို့ ရှိပါသည်။ တံတားအမှတ် ၃/၄၀၆(ရေကျော်)တံတားတွင် တံတားအသုံးပြုခ ကောက်ခံခြင်း မရှိပါ။ အနော်ရထာ တံတားအား စီမံကိန်းဝင် တံတားများကောက်ခံသည့်နှုန်းဖြင့် ကောက်ခံပါ ကြောင်းနှင့် ယင်းလမ်းပိုင်း တွင် ကုမ္ပဏီမှ တည်ဆောက်သော တံတားမရှိပါကြောင်း တင်ပြထားပါသည်။

၇။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်းသက်တမ်းကာလမှာ နှစ်(၄၀)ဖြစ်ပြီး နှစ်ဖက်သဘောတူပါက တစ်ကြိမ်လျှင် (၅)နှစ်စီ ဖြင့် (၃)ကြိမ် တိုးမြှင့်နိုင်သည်။ လုပ်ငန်းသက်တမ်းကာလကို လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (၃)နှစ်အထိ ဆောင်ရွက်ပြီးစီးသည့် နေ့ (သို့မဟုတ်) လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးသည့် နေ့ ထိုနှစ်ရပ်အနက် စောရာ နေ့ ရက် ကာလမှ စတင် သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများမှ အောက်ပါလမ်းအသုံးပြုခနှုန်းများ အတိုင်း ကောက်ခံမည် ဖြစ်ပါသည် -

| **စဉ်** | **ယာဉ်အမျိုးအစား** | **လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း** |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတားအသုံးပြုခများကို ပေ (၁၈၀) နှင့် အထက် ရှည်သည့် တံတားများ အတွက် နိုင်ငံတော်မှ တည်ဆောက်ထားသော တံတားများအား လေလံစနစ်ဖြင့် လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊တံတားအသုံးပြုခရငွေအပေါ် ခွင့်ပြုကာလအပိုင်းအခြားအလိုက် အောက်ပါ သတ်မှတ်ထားသည့် ရာခိုင်နှုန်းများ အတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါ သည် -

(၁) ပထမ (၃)နှစ် အတွက် ------ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ------၅% ပေးသွင်းရန်

(၃) (၁၄) နှစ်မြောက်မှ (၂၃)နှစ်မြောက်အထိ(၁၀)နှစ် ------၁၀% ပေးသွင်းရန်

(၄) (၂၄) နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ (၁၀)နှစ် ------၁၅% ပေးသွင်းရန်

(၅) (၃၄) နှစ်မြောက်မှ (၄၀)နှစ်မြောက်အထိ (၇)နှစ် ------၂၀%ပေးသွင်းရန်

- B.O.T နှစ်လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့်ရရှိပါက နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်းပေးသွင်းရမည် ဖြစ်ပါသည်။

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေ အဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကိုထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည့် အထိ ဖြစ်သည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက် (၃၀) အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ်ကာလအတွင်း လုပ်ငန်းကို ပြီးစီး အောင်ဆောင်ရွက် ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူ ရမည်ဖြစ်သည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီများသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရပါ။

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန) မှ လုပ်ငန်း စတင် ရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။

(ဈ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလနှစ်(၄၀)သို့မဟုတ်နောက်ထပ်တိုးမြှင့် ကာလ များ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦများကို ဆောက်လုပ်ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့်အနေအထားအတိုင်း ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနားတစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၈။ အဆိုပြု လမ်းအပိုင်းအား B.O.T စနစ်ဖြင့် လမ်းအဆင့် တိုးမြှင့်ဖောက်လုပ်ခြင်း လုပ်ငန်းကို ဆောက်လုပ်ရေး ဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ၏ (၄/၂၀၁၀) (၁၀-၂-၂၀၁၀) အစည်းအဝေး ခွင့်ပြုချက်အရ (၁၀-၂-၂၀၁၀) နေ့မှစ၍ လုပ်ငန်း ကြိုတင်ဆောင်ရွက်ရန် ခွင့်ပြုချက် ရရှိထားပြီး ဖြစ်ပါသည်။

၉။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် (၇)နှစ်မြောက်တွင် နိုင်ငံတော်မှ ဝင်ငွေခွန် ကျပ် (၁၄.၉၆၄) သန်း နှင့် လမ်း၊ တံတား ဖြတ်သန်းခအတွက် ကျပ် (၁၂.၅၂) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃၀)နှစ် နှင့် (၇)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁.၉၂) ရာခိုင်နှုန်း ဖြစ်ပါသည်။ တည်ဆောက်ရေးကာလတွင် ပြည်တွင်းမှ လုပ်သား (၂၇၀)ဦး နှင့် လုပ်ငန်း ဆောင်ရွက်သည့် ကာလတွင် ဝန်ထမ်း(၃၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် ကုမ္ပဏီ၏ ဒါရိုက်တာများဖြစ်သော ဒေါ်ခင်မြင့်ရီနှင့် ဒေါ်နှင်းသဇင်တို့၏ အမည်ဖြင့် CB Bank ရှိ (၂၀-၀-၂၀၁၀)နေ့ရှိ ငွေလက်ကျန် ကျပ် (၃၃၃.၀၅၈) သန်း စာရင်းတင်ပြထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ကိုလည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကိုလည်းကောင်း ခံစားခွင့် ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၂။ နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hnin Thazin Construction Co., Ltd.) မှ ဝွေးချို- ချောက်- ဆိပ်ဖြူ- ပခုက္ကူ လမ်းအပိုင်း ၇၇ မိုင် ၇ ဖာလုံ တွင် B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၃။ အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

(မောင်မောင်သိမ်း)
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန၊

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့

ပြည်ထောင်စုမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက-၆(ခ)/မ -၁၁၂၄/၂၀၁၁( ၄၅၂၉ )။
ရက်စွဲ ၊ ၂၀၁၁ ခုနှစ်၊ မတ်လ ၁၈ ရက်။

**ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ ။ နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်(Hinn Thazin Construction Co., Ltd.) မှ ငွေးချို- ချောက်- ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်းတွင် B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ။

၁။ မြန်မာ ကုမ္ပဏီဖြစ်သော နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hinn Thazin Construction Co., Ltd.) မှ ငွေးချို- ချောက် လမ်းအပိုင်း ၁၇ မိုင် ၁ ဖာလုံ ၊ ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း ၆၀ မိုင် ၆ ဖာလုံ စုစုပေါင်း ၇၇ မိုင် ၇ ဖာလုံ ကို B.O.T စနစ်ဖြင့် ပြုပြင်ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဘိုဘိုလင်း (အဘ - ဦးတင့်ဝေ) မှ ဆောက်လုပ်ရေး ဝန်ကြီးဌာန မှ တစ်ဆင့် အဆိုပြု တင်ပြလာခြင်း ဖြစ်ပါသည်။

၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့် နှင့် စပ်လျဉ်း၍ (၂၅-၂-၂၀၁၁)ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၈/၂၀၁၁) အစည်းအဝေးမှ “ အချက်အလက်ပြည့်စုံစွာ ဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ တင်ပြလမ်းညွှန်မှု ခံယူရန် ဆုံးဖြတ်ချက်အရ ဆက်လက် တင်ပြခြင်း ဖြစ်ပါသည်။

၃။ လုပ်ငန်း အဆိုပြုချက်အား နောက်ဆက်တွဲ(က)ဖြင့် တင်ပြအပ်ပါသည်။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ စုစုပေါင်း ကျပ် (၄၁၀၀.၀၀) သန်း ဖြစ်ပါသည်။ စက်ပစ္စည်း ကိရိယာ တန်ဖိုး US$ (၄.၆၇) သန်း ကို ပြည်ပမှ တင်သွင်းမည် ဖြစ်ပါသည်။

| | | |
|---|---|---|
| | <u>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု</u> | <u>ကျပ် ၄၁၀၀.၀၀ သန်း</u> |
| (က) | ငွေပမာဏ | ၃၄၇၁.၆၅ |
| (ခ) | စက်ပစ္စည်း ကိရိယာများ | ၂၈.၀၅ (US$ ၄.၆၇ သန်းအပါအဝင်) |
| (ဂ) | အဆောက်အဦ | ၆၃၅.၀၀ |
| (ဃ) | ပရိဘောဂ | ၅.၃၀ |

၄။ အဆိုပြု လမ်းအပိုင်းတွင် အသွား/ အပြန် ခရီးစဉ်အတွက် ၇၇ မိုင် ၇ ဖာလုံ တွင် လမ်းတစ်မိုင် နှုန်းအပေါ် အခြေခံ၍ လမ်း အသုံးပြုခကောက်ခံမည် ဖြစ်ပါသည်။

၅။ အဆိုပြု လမ်းပိုင်းတွင် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းမှ တည်ဆောက်သော ပေ ၃၀၀ ရှည်သည့် တံတားအမှတ် ၃/၄၀၆ (ရေကျော်) နှင့် ပေ ၅၁၉၁ ရှိ အနော်ရထာတံတားတို့ ရှိပါသည်။ တံတားအမှတ် ၃/၄၀၆(ရေကျော်)တံတားတွင် တံတားအသုံးပြုခ ကောက်ခံခြင်း မရှိပါ။ အနော်ရထာတံတားအား စီမံကိန်း၀င် တံတားများကောက်ခံသည့်နှုန်းဖြင့် ကောက်ခံပါ ကြောင်းနှင့် ယင်းလမ်းပိုင်းတွင် ကုမ္ပဏီမှ တည်ဆောက်သော တံတားမရှိပါကြောင်း တင်ပြထားပါသည်။

၆။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆို မည့် ပဋိညာဉ်စာချုပ် (မူကြမ်း) များပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) လမ်းဖောက်လုပ်သည့် လုပ်ငန်းကာလ (တည်ဆောက်ရေးကာလ)မှာ (၃) နှစ် ဖြစ်ပါသည်။

(ခ) လုပ်ငန်း သက်တမ်း ကာလမှာ နှစ် (၄၀) ဖြစ်ပြီး သက်တမ်း ကုန်ဆုံးပါက တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ် တိုးမြှင့်ရန် ဖြစ်ပါသည်။ လုပ်ငန်းသက်တမ်းကာလကို ရေတွက်ရာတွင် လမ်းဖောက်လုပ်သည့် လုပ်ငန်း ကာလ (၃)နှစ်အထိ ဆောင်ရွက် ပြီးစီးသည့်နေ့ (သို့မဟုတ်) လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေး သည့်နေ့ ထိုနှစ်ရပ်အနက်စောရာ နေ့ရက် ကာလမှ စတင်သတ်မှတ်မည် ဖြစ်ပါသည်။

(ဂ) အဆိုပြုကုမ္ပဏီများ မှ အောက်ပါ လမ်းအသုံးပြုခ နှုန်းများအတိုင်း ကောက်ခံမည် ဖြစ်ပါသည် -

| စဉ် | ယာဉ်အမျိုးအစား | လမ်းအသုံးပြုခနှုန်း တစ်မိုင်နှုန်း |
|---|---|---|
| ၁။ | (၁)တန်အောက်ယာဉ်ငယ်များ | ၄ ကျပ် ၁၃ ပြား |
| ၂။ | (၁)တန်မှ(၃)တန်အထိယာဉ်များ | ၁၂ ကျပ် ၃၉ ပြား |
| ၃။ | (၅) တန်အောက်ကားကြီးများ | ၂၀ ကျပ် ၆၅ ပြား |
| ၄။ | (၁၀)တန်အောက်ကုန်တင်ယာဉ်ကြီး များ | ၄၁ ကျပ် ၃၀ ပြား |
| ၅။ | (၂၀)တန်အထိကုန်တင်ယာဉ်ကြီး များ | ၈၂ ကျပ် ၅၉ ပြား |
| ၆။ | (၂၀)တန်အထက်တန်ပို(၁)တန် လျှင် | ၈ ကျပ် ၂၆ ပြား |

(ဃ) တံတား အသုံးပြုခများကို ပေ (၁၈၀) နှင့် အထက်ရှည်သည့် တံတားများ အတွက် နိုင်ငံတော် မှ တည်ဆောက်ထားသော တံတားများအား လေလံ စနစ်ဖြင့်

လည်းကောင်း၊ ကုမ္ပဏီ၏ ရန်ပုံငွေ ဖြင့် တည်ဆောက်သော တံတားများ အတွက် ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း နှင့် ကုမ္ပဏီတို့ ညှိနှိုင်း သဘောတူညီသည့် နှုန်းထားဖြင့် လည်းကောင်း ကောက်ခံရမည် ဖြစ်ပါသည်။

(င) လမ်း၊ တံတား အသုံးပြုခ ရငွေအပေါ် ခွင့်ပြုကာလ အပိုင်းအခြား အလိုက် အောက်ပါသတ်မှတ်ထားသည့် ရာခိုင်နှုန်းများအတိုင်း နိုင်ငံတော်သို့ ပေးသွင်းရမည် ဖြစ်ပါသည် -

(၁) ပထမ (၃)နှစ် အတွက် ---- ကင်းလွတ်ခွင့်ကာလ

(၂) (၄) နှစ်မြောက်မှ (၁၃)နှစ်မြောက်အထိ (၁၀)နှစ် ---- ၅% ပေးသွင်းရန်

(၃) (၁၄)နှစ်မြောက်မှ(၂၃)နှစ်မြောက်အထိ(၁၀)နှစ် ---- ၁၀% ပေးသွင်းရန်

(၄) (၂၄)နှစ်မြောက်မှ (၃၃)နှစ်မြောက်အထိ(၁၀)နှစ် ---- ၁၅% ပေးသွင်းရန်

(၅) (၃၄)နှစ်မြောက်မှ(၄၀)နှစ်မြောက်အထိ (၇)နှစ် ---- ၂၀%ပေးသွင်းရန်

* B.O.T နှစ်လေးဆယ် ပြည့်ပြီးနောက် သက်တမ်းတိုးခွင့်ရရှိပါက နိုင်ငံတော်မှ သတ်မှတ်ပေးသည့် ရာခိုင်နှုန်းအတိုင်းပေးသွင်းရမည် ဖြစ်ပါသည်။

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ရသူသည် ဘဏ်အာမခံကြေးငွေအဖြစ် စာချုပ် ချုပ်ဆိုပြီး (၃၀)ရက် အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသောငွေကို ထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့ မှ လုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်သည်။ လုပ်ငန်း လုပ်ကိုင်ခွင့် ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက်(၃၀) အတွင်း လုပ်ငန်း စတင်ရန် ပျက်ကွက်လျှင် သော်လည်းကောင်း၊ သတ်မှတ် ကာလအတွင်း လုပ်ငန်း ကို ပြီးစီးအောင်ဆောင်ရွက်ရန် အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း မှ သိမ်းယူ ရမည်ဖြစ်သည်။ ဘဏ်အာမခံငွေကို လုပ်ငန်း အပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ထုတ်ပေးပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း လုပ်ကိုင်ခွင့် ရသူသို့ ပြန်လည် ထုတ်ပေးရမည်။

(ဆ) အဆိုပြုကုမ္ပဏီသည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့် မပြုရပါ။

(ဇ) လုပ်ငန်းစတင်သည့်နေ့သည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ (ဌာန) မှ လုပ်ငန်း စတင်ရန် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ (ကုမ္ပဏီ) သို့ အကြောင်းကြားသည့်နေ့ ဖြစ်သည်။

(စ) လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့် ကာလ နှစ်(၄၀) သို့မဟုတ် နောက်ထပ်တိုးမြှင့် ကာလများ ပြီးဆုံးပါက အဆိုပါလမ်းနှင့် တံတားများ၊ ဂိတ်များနှင့် အဆောက်အဦ များကို ဆောက်လုပ်ပြီးစီးချိန်ကရှိနေသော ကောင်းမွန်သည့် အနေအထား အတိုင်း ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းသို့ အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်း ပေးရမည် ဖြစ်ပါသည်။

၇။ အဆိုပြု BOT စနစ်ဖြင့် လမ်းအဆင့်တိုးမြှင့်ဖောက်လုပ်ခြင်း လုပ်ငန်းကို ဆောက်လုပ်ရေး ဝန်ကြီးဌာန စီမံခန့်ခွဲမှု ကော်မတီ ၏ (၄/၂၀၁၁) အစည်းအဝေး ခွင့်ပြုချက်အရ (၁၀-၂-၂၀၁၀)နေ့မှ လုပ်ငန်းကြိုတင်ခွင့်ပြုချက် ရရှိထားပြီး ဖြစ်ပါသည်။

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် (၇)နှစ်မြောက် တွင် ရရှိမည့် လမ်း၊ တံတား အသုံးပြုခ ကောက်ခံရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | (ကျပ်သန်း) |
|---|---|
| (က) ဝင်ငွေ | ၂၅၀.၄၆၀ |
| (ခ) အသုံးစရိတ် | ၂၀၀.၅၇၉ |
| (ဂ) အသားတင်အမြတ် | ၄၉.၈၈၁ |

၉။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် (၇)နှစ်မြောက်တွင် နိုင်ငံတော်မှ ဝင်ငွေခွန် ကျပ် (၁၄.၉၆၄) သန်း နှင့် လမ်း၊ တံတား ဖြတ်သန်းခအတွက် ကျပ် (၁၂.၅၂) သန်း ရရှိမည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃၀)နှစ် နှင့် (၇)လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁.၉၂) ရာခိုင်နှုန်း ဖြစ်ပါသည်။ တည်ဆောက်ရေးကာလတွင် ပြည်တွင်းမှ လုပ်သား (၂၇၀)ဦး နှင့် လုပ်ငန်း ဆောင်ရွက်သည့် ကာလတွင် ဝန်ထမ်း(၃၆)ဦး ခန့်ထားမည် ဖြစ်ပါသည်။

၁၀။ ငွေကြေးအထောက်အထားအဖြစ် ကုမ္ပဏီအမည်ဖြင့် CB Bank ရှိ (၂၁-၁-၂၀၁၁) နေ့ ရှိ ငွေလက်ကျန် ကျပ် (၃၃၃.၀၅၈) သန်း စာရင်းတင်ပြထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ကို လည်းကောင်း၊ ပုဒ်မ ၁၃ အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို လည်းကောင်း ခံစားခွင့် ပြုရပါမည်။

ဆုံးဖြတ်ရန်အချက်

၁၂။ နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hinn Thazin Construction Co., Ltd.) မှ ဝေါးချို- ချောက်- ဆိပ်ဖြူ- ပခုက္ကူ လမ်းအပိုင်း ၇၇ မိုင် ၇ ဖာလုံ တွင် B.O.T စနစ်ဖြင့် ပြုပြင် ဖောက်လုပ်၍ လမ်း၊ တံတား အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ - မတူ။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ထောက်ခံချက်

၁၇။ ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံပါမည်။

( မောင်မောင်သိမ်း)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ဝန်ကြီး၊ မွေးမြူရေးနှင့်ရေလုပ်ငန်းဝန်ကြီးဌာန။

ကုန်သွယ်မှုမူဝါဒကောင်စီ



Hinn ThazinTC(M)

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ နေရပ်လိပ်စာ |
|---|---|---|---|
| ၁။ | နှင်းသဇင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hinn Thazin Construction Co., Ltd.) | ၁။ ဒေါ်ခင်မြင့်ရီ (ဥက္ကဋ္ဌ) | အမှတ်(၃၁)၊ ၇ မိုင်ရိပ်သာ၊ ပြည်လမ်း၊မရမ်းကုန်းမြို့နယ်၊ရန်ကုန်မြို့။ |
| | | ၂။ ဦးဘိုဘိုလင်း (အုပ်ချုပ်မှုဒါရိုက်တာ) | အမှတ်- (၃၃)၊ ရေစက်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |
| | | ၃။ ဒေါ်နှင်းသဇင်မြင့် (ဒါရိုက်တာ) | အမှတ်- (၃၃)၊ ရေစက်လမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ |

၁။ ကုမ္ပဏီ၏ တယ်လီဖုန်းအမှတ်/ - ၀၁ - ၅၁၃၈၃၂၊ ၀၉ - ၈၆၁၈၈၂၃

ဖက်စ်နံပါတ် - ၀၁ - ၅၀၁၀၂၀

၂။ ကုမ္ပဏီ၏ လိပ်စာအပြည့်အစုံ - အမှတ်- (ဘီ - ၅)၊ ရွှေကုံ့ကော်လမ်း၊ ရွှေမာလာရိပ်မွန်၊ ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။

၃။ ကုမ္ပဏီ၏ ဆက်သွယ်ရမည့်ပုဂ္ဂိုလ် အမည်/ရာထူး - ဦးဘိုဘိုလင်း (အုပ်ချုပ်မှု ဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်သည့် လုပ်ငန်းများ - ဆောက်လုပ်ရေးလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်နှင့်ရက်စွဲ - ၁၂၈၅/၂၀၀၉ - ၂၀၁၀ (၃-၁၂-၂၀၀၉)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်း ကုန်ဆုံးသည့်နေ့စွဲ - (၂-၁၂-၂၀၁၁)

၇။ ဘဏ်အမည်နှင့်ငွေစာရင်းအမှတ် - CB Bank 0532003261

သို့/

ဦးကျော်ဇွန်း ( ညွှန်ကြားရေးမှူး) Fax - 406333

၁။ **နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်**
ဝေးချို-ချောက်-ဆိပ်ဖြူ-ပခုက္ကူလမ်း

| တံတားအမည် | ဆောက်လုပ်ရေးမှ တည်ဆောက်သော တံတား | ကုမ္ပဏီမှ တည်ဆောက်သော တံတား |
|---|---|---|
| တံတားအမှတ် ၃/၄၀၆ (ရေကျော်) | ၃၀၀' (တံတားအသုံးပြုခကောက်ခံခြင်းမရှိပါ) | - |
| အနော်ရထာတံတား | ၅၁၉၁' (စီမံကိန်းဝင်ရှုန်း) | - |

၂။ **နေမင်းရောင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်**
မိတ္ထီလာ-တောင်ကြီး-ကျိုင်းတုံ-တာချီလိတ်လမ်း
(တောင်ကြီး-လွိုင်လင်-နမ့်စန်အပိုင်း)

| တံတားအမည် | ဆောက်လုပ်ရေးမှ တည်ဆောက်သော တံတား | ကုမ္ပဏီမှ တည်ဆောက်သော တံတား |
|---|---|---|
| တံတားအမှတ် ၄/၀၅၃ မိုင်းပွန်တံတား | ၂၀၈' (လေလံရှုန်း) | - |

၃။ **ယုဇနဆောက်လုပ်ရေးကုမ္ပဏီလီမိတက်**
ကျောက်ဆောင်း-ဘုတ်ပြင်းလမ်း (၅၀/၀) မိုင်

ပေ (၁၈၀)နှင့် အထက် တံတားမရှိပါ။

မှ

(ထွန်းသာ)
ဒု-အင်ဂျင်နီယာချုပ်(လမ်း)
D/MIC Fax

C B BANK
CO-OPERATIVE BANK LTD.

E-mail : cbbank@mptmail.net.mm
Website : www.cbbankmyanmar.com
www.cbbank.com.mm

**STATEMENT OF ACCOUNT**




Date- 21.1.2011

To

| | |
|---|---|
| Account Name | DAW KHIN MYINT YEE |
| | DAW HNIN THAZIN MYINT |
| N.R.C NO | 12/PABATA(N)-013381 |
| | 12/KAMAYA(N)-056616 |
| Account No | 0532003261 |
| Address | SHWE KYAT YET TENPO; |
| | AMARAPURA, |
| | MANDALAY. |

Dear Sir,

We hereby certify that the balance standing at the account of with CO-OPERATIVE BANK LIMITED Mandalay-1 Branch, Mandalay at the close of business on the (20.1.2011) Ks-333,057,899/-(Ks-Three Hundred Thirty Three Million Fifty Seven Thousand Eight Hundred Ninety Nine Only).

Your Faithfully,

Manager
Co-Operative Bank
Mandalay-1 Branch

Asst;General Manager
Co-Operative Bank
Mandalay-1 Branch

# ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း
# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန်
# ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်
# အဆိုပြုချက်

# နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်
## (ငွေးချို-ချောက်-ဆိပ်ဖြူ-ပခုက္ကူလမ်းအပိုင်း)

**PROPOSAL OF THE INVESTOR TO MAKE**

**MYANMAR CITIZENS INVESTMENT IN THE**

**UNION OF MYANMAR**

**HNIN THAZIN CONSTRUCTION CO.,LTD.**

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၁(ကုမ္ပဏီ)(စီ ၂၁၂၄)
ရက် စွဲ၊ ၂၀၁၁ ခုနှစ် မတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နှင်းသဇင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hinn Thazin Construction Co.,Ltd) မှ ငွေးချို- ချောက်- ဆိပ်ဖြူ- ပခုက္ကူ လမ်းအပိုင်း၏ အဆိုပြုလွှာအား အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြပေးနိုင်ပါရန် တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျှက်ရှိသော ကုမ္ပဏီများအနက် နှင်းသဇင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ဆောင်ရွက်နေသော ငွေးချို - ချောက် - ဆိပ်ဖြူ - ပခုက္ကူ လမ်းပိုင်း၏ အဆိုပြုလွှာနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့တင်ပြပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့ပါသည်။ ကုမ္ပဏီမှ ဆောင်ရွက်လျက်ရှိသော လမ်းပိုင်း၏ အဆိုပြုလွှာနှင့်ပတ်သက်၍ အစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြသွားပါရန် အကြောင်းကြားလာပါသည် ။

၂။ သို့ဖြစ်ပါ၍ ကုမ္ပဏီ၏ အဆိုပြုလွှာအား အစိုးရအဖွဲ့ အစည်းအဝေးသို့ တင်ပြအတည်ပြု ချက်ရယူပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့် အညီ ပြုစုထားသော ငွေးချို - ချောက် - ဆိပ်ဖြူ - ပခုက္ကူ လမ်းအပိုင်း၏ အဆိုပြုလွှာ (၁၅) စုံနှင့် Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy (၁)ချပ်တို့အား ပူးတွဲပေးပို့ တင်ပြအစီရင်ခံအပ်ပါသည် ။

၂၂.၃.၁၁

ဝန်ကြီး(ကိုယ်စား)
ကျော်ဝင်း၊ ရုံးအဖွဲ့မှူး

**ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ**
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
**ဝန်ကြီးရုံး**
**နေပြည်တော်**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၁၁(ကုမ္ပဏီ)(စီ ၁၈၀၂)
ရက် စွဲ၊ ၂၀၁၁ ခုနှစ် မတ်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **နှင်းသဇင် ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hinn Thazin Construction Co.,Ltd) မှ ဝွေးချို- ချောက်- ဆိပ်ဖြူ- ပခုက္ကူ လမ်းအပိုင်း၏ အဆိုပြုလွှာအား ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြပေးနိုင်ပါရန် တင်ပြခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၁ ခုနှစ် မတ်လ (၉) ရက် နေ့စွဲပါ စာအမှတ်၊ ရက-၆(က) / မ-၁၁၂၄/ ၂၀၁၁ (၃၉၃၈)

၁။ နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်လျှက်ရှိသော ဝွေးချို- ချောက်- ဆိပ်ဖြူ - ပခုက္ကူ လမ်းပိုင်း၏ အဆိုပြုလွှာနှင့် ငွေကြေးလည်ပတ်မှု အခြေအနေအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၁)သို့တင်ပြခဲ့ရာ အဆိုပါကော်မရှင်မှ B.O.T စနစ်ဖြင့် လမ်းအသုံးပြုခများကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် အဆိုပြုလွှာအား အချက်အလက်များ ပြည့်စုံစွာဖြင့် ဆောင်ရွက်ပြီးပါက ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြလမ်းညွှန်မှုခံယူရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည် ။

၂။ သို့ဖြစ်ပါ၍ အဆိုပါလမ်းပိုင်း၏ အဆိုပြုလွှာအား ကုန်သွယ်မှုမူဝါဒကောင်စီ အစည်းအဝေးသို့ တင်ပြအတည်ပြုချက် ရယူပေးနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြုစုထားသော ဝွေးချို-ချောက်-ဆိပ်ဖြူ-ပခုက္ကူ လမ်းအပိုင်း၏ အဆိုပြုလွှာ (၁၅) စုံနှင့် Adobe Acrobat Reader (Pdf) File ဖြင့် ထည့်သွင်းထားသော CD Copy (၁)ချပ် တို့အား ပူးတွဲပေးပို့ တင်ပြအစီရင်ခံ အပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
ကျော်ဝင်း၊ ရုံးအဖွဲ့မှူး



HNIN THAZIN CONSTRUCTION CO., LTD.

HNIN THAZIN

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

ရက်စွဲ ၊ ၂၀၁၁-ခုနှစ်၊ ဖေဖော်ဝါရီလ (၂၃) ရက်

အကြောင်းအရာ ။ ဓွေးချို - ချောက် - ဆိပ်ဖြူ - ပခုက္ကူလမ်းပိုင်းနှင့်ပတ်သက်၍ လိုအပ်ချက်များ ပြန်လည်တင်ပြခြင်း

အထက်အကြောင်းအရာကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းအဆိုပြုလွှာကို တင်သွင်းခဲ့ပါသည်။ (၁၀-၂-၂၀၁၁)နေ့တွင် လိုအပ်ချက်များညှိနှိုင်းဆွေးနွေးချက်အရ လိုအပ်ချက်များပြင်ဆင်၍ ပြန်လည် တင်ပြအစီရင်ခံအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

BO BO LINN
MANAGING DIRECTOR
HNIN THAZIN CONSTRUCTION CO., LTD.



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၁ /ခွဲ-၂/ထွေ/၂၀၁၁ (ကုမ္ပဏီ)(စီ ၁၂၆)
ရက် စွဲ၊ ၂၀၁၁ခုနှစ် ဇန်နဝါရီလ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။ နှင်းသဇင် ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ B.O.T စနစ်ဖြင့် ဆောင်ရွက်နေသော လမ်းပိုင်းအတွက် လုပ်ငန်းလုပ်ကိုင်ခွင့် အဆိုပြုလွှာ တင်ပြခြင်း**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ လမ်းအပိုင်းများအား B.O.T စနစ်ဖြင့် လုပ်ငန်းလုပ်ကိုင် ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများအနက် နှင်းသဇင်ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်နေသော ငွေးချို - ချောက် - ဆိပ်ဖြူ - ပခုက္ကူ လမ်းပိုင်း (၇၇/၇) မိုင်၏ အဆိုပြုလွှာ နှင့် ပဋိညာဉ်စာချုပ်ပါ လိုအပ်ချက်များအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်မှုနှင့်အညီ ပြင်ဆင်စေခဲ့ရာ ၎င်းကုမ္ပဏီမှ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ လမ်းဦးစီး နှင့် ဆက်သွယ်ညှိနှိုင်းပြုစုပြီး ပြင်ဆင်ပြည့်စွက် ပေးပို့လာပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ လမ်းညွှန်ချက်နှင့်အညီ ပြုစုထားသော အဆိုပါ လမ်းပိုင်း၏ အဆိုပြုလွှာအား ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ၊ လမ်းဦးစီးမှ စိစစ်ခဲ့ပြီး ဖြစ်ပါ၍ လိုအပ်သလို ဆက်လက်ဆောင်ရွက်ပေးနိုင်ပါရန် နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာ (၁) စုံ ၊ ငွေကြေးလည်ပတ်မှု အခြေပြဇယား (၁)စောင်တို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

ဝန်ကြီး(ကိုယ်စား)
ကျော်ဝင်း၊ ရုံးအဖွဲ့မှူး

(၃၀.၁.၂၀၀၉) နေ့ B.O.T အစည်းအဝေးကျင်းပပြီးနောက်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိသော ကုမ္ပဏီများမှတင်ပြလာသည့် ငွေကြေးလည်ပတ်မှု အခြေပြဇယား

| စဉ် | လမ်းအမည် | ကုမ္ပဏီအမည် | I.R.R (%) | အရင်းကြေကာလ (နှစ်) | (၁)ရက်သွားသည့် ယာဉ်စီးရေ | (၁)နှစ်ယာဉ်တိုးနှုန်း (%) | ရင်းနှီးမြှုပ်နှံမှု (ကျပ်သန်း) |
|---|---|---|---|---|---|---|---|
| ၁။ | ငွေးချို-ချောက်-ဆိပ်ဖြူ-ပခုက္ကူလမ်း (ငွေးချို-ချောက် အပိုင်း ၁၇မိုင် ၁ဖာလုံ) နှင့်(ငွေးချို-ပခုက္ကူ အပိုင်း၆၀ပိုင်း၆ဖာလုံ) စုစုပေါင်း - ၇၇မိုင် ၇ဖာလုံ | နှင်းသဇင် | ၁.၉၂ | ၃၀.၇ | ၁၅၀ | ၁ | ၄၁၀၀ . ၀ |




ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
**ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း**
**ရုံးအမှတ် (၁၁)၊ နေပြည်တော်**
**ဖုန်း - ၀၆၇ - ၃၈၀၀၇၂၊ ဖက်(စ်) - ၀၆၇ - ၄၀၇၀၇၃**
**အီးမေးလ် - PW Const @ mpt mail-net.mm**

---

စာအမှတ် - လစမ/B.O.T/ကြိုတင်/၂၀၁၀-၂၀၁၁/၁၁၅
ရက် စွဲ - ၂၀၁၀ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၁၁ ) ရက်

အကြောင်းအရာ။ **B.O.T. စနစ်ဖြင့် လမ်း၊ တံတားလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန်အတွက် လုပ်ငန်းကြိုတင်ခွင့်ပြုမိန့်ထုတ်ပေးခြင်း။**

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသည် **နှင်းသဇင်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက်** အား ချောက်-ဆိပ်ဖြူ-ပခုက္ကူလမ်းအပိုင်း ( ၇၇/၇ ) မိုင် ကို B.O.T. စနစ်ဖြင့် စတင်အကောင်အထည်ဖော် ဆောင်ရွက်နိုင်ရေးအတွက် ( ၁၀ - ၂ - ၂၀၁၀ ) နေ့တွင် ကျင်းပပြုလုပ်သည့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် ( ၄ /၂၀၁၀ ) မှ သတ်မှတ်ပေးသည့် လုပ်ငန်းကြိုတင် ဆောင်ရွက်ခွင့် မူဝါဒ ( ၂၀ ) ချက်နှင့် ပြည့်စုံ၍ သဘောတူလက်မှတ်ရေးထိုးပြီးဖြစ်သည့်အတွက် လုပ်ငန်းကို ကြိုတင်ဆောင်ရွက်ရန် ခွင့်ပြုလိုက်သည်။

၂။ အထက်ဖော်ပြပါ ကုမ္ပဏီသည် ကြိုတင်ခွင့်ပြုမိန့် ရရှိပြီး ( ၇ ) ရက်အတွင်း လုပ်ငန်းခွင်သို့ စတင်ဝင်ရောက်၍ လမ်း၊ တံတား အသုံးပြုခကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ သတ်မှတ်နှုန်းထားအတိုင်း ကောက်ခံရန်၊ ( ၂ ) ပတ် အတွင်း ကုမ္ပဏီဆိုင်းဘုတ်တပ်ဆင်ရန်နှင့် ( ၃ ) လအတွင်း B.O.T. အဆိုပြုလွှာ အပြည့်အစုံနှင့် တင်ပြ၍ လျှောက်ထားရမည်။

၁၁၊၂၊၁၀

(ခင်မောင်ဆယ်)
ဦးဆောင်ညွှန်ကြားရေးမှူး




သို့

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန
နေပြည်တော်

ရက်စွဲ ၊ ၂၀၁၁ ခုနှစ် ၊ ဖေဖော်ဝါရီလ (၁၃) ရက်

အကြောင်းအရာ ။ ငွေးချို့–ချောက်–ဆိပ်ဖြူ–ပခုက္ကူလမ်း၏ လမ်းအပိုင်း အဆိုပြုချက်

၁။ ကျွန်တော်များ **HNIN THAZIN CONSTRUCTION CO.,LTD** ငွေးချို့–ချောက်–ဆိပ်ဖြူ–ပခုက္ကူ လမ်းမကြီး၏ ငွေးချို့–ချောက် လမ်းအပိုင်း (၁၇/၁) မိုင်နှင့် ဆိပ်ဖြူ–ပခုက္ကူ လမ်းအပိုင်း (၆၀/၆)မိုင် စုစုပေါင်း (ရရ/ရ)မိုင်ကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်ဖြင့် လုပ်ငန်းလုပ်ကိုင်ရန်အတွက် အဆိုပြုတင်ပြအပ်ပါသည်။

၂။ အဆိုပြုလမ်းစီမံကိန်းတွင် ပေ(၁၈၀)အထက် တံတား(၂)စင်းဖြစ်သော အနော်ရထာတံတား (ချောက်) (၅၁၉၂)ပေ၊ ယောချောင်းတံတား(၁၄၄၅)ပေ၊ တံတားငယ်နှင့် (၂၄)ပေအကျယ် နှစ်လမ်းသွားကတ္တရာလမ်းတို့ကို လိုအပ်သလို ပြုပြင်ဖောက်လုပ်တည်ဆောက်ခြင်း။ လုပ်ငန်းစီမံကိန်း၏ ခန့်မှန်းရင်းနှီး မြှုပ်နှံငွေပမာဏမှာ ကျပ်သန်းပေါင်း (၄၁၀၀. ၀) ဖြစ်ပါသည်။

၃။ အဆိုပြုလမ်းစီမံကိန်းတွင် လမ်းအသုံးပြုခန့်မှန်းထား လုပ်ငန်းကာလနှင့် နိုင်ငံတော်သို့ လမ်းအသုံးပြုခ ကောက်ခံငွေအပေါ် ပေးသွင်းမှုမှန်းထားအရ အရင်းကြေကာလမှာ (၁၀နှစ် ၇လ)၊ **Internal Rate of Return (IRR)** မှာ ၁၈.၉၂% ဖြစ်ပါသဖြင့် လုပ်ငန်းသက်တမ်းကာလကို နှစ်ပေါင်း (၄၀)အထိ လုပ်ကိုင်ခွင့်ပြုပေးနိုင်ပါရန်နှင့် သက်တမ်းကာလ ကုန်ဆုံးပါက တစ်ကြိမ်လျှင် (၅)နှစ်စီဖြင့် (၃)ကြိမ် သက်တမ်းတိုးမြှင့်ခွင့်ပြုပါရန် အဆိုပြုတင်ပြအပ်ပါသည်။

၄။ သို့ဖြစ်ပါ၍ ကျွန်တော်များ ကုမ္ပဏီ၏ ငွေးချို့–ချောက်–ဆိပ်ဖြူ–ပခုက္ကူ လမ်းအပိုင်းစီမံကိန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်နှင့် ဆောင်ရွက်ခွင့်ပြုပါရန် ဥပဒေအခန်း(၇)၊ အပိုင်း(၁၂)နှင့် (၁၃)ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အခွန်ကင်းလွတ်ခွင့်၊ အခွန်ဆိုင်ရာ သက်သာခွင့်များ ခွင့်ပြုပေးနိုင်ပါရန် အောက်ပါအထောက်အထား စာရင်းဇယား စာရွက်စာတမ်းများကို ပူးတွဲလျက် လေးစားစွာ အဆိုပြုတင်ပြအပ်ပါသည်။

(၁) မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုအဆိုပြုချက်
(၂) ဘဏ္ဍာရေးဆိုင်ရာတွက်ချက်မှုစာရင်းဇယားများ
(၃) ပဋိညာဉ်စာချုပ် (မူကြမ်း)
(၄) ကုမ္ပဏီ၏ သင်းဖွဲ့စည်းမျဉ်းနှင့်သင်းဖွဲ့မှတ်တမ်း

လေးစားစွာဖြင့်

BO BO LINN
MANAGING DIRECTOR
HNIN THAZIN CONSTRUCTION CO., LT'

